



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၁၉၅ / ၉၇ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာ လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ကြည်စိုး

(ခ) အဘအမည် ဦး တော်စိန်ဟို

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန ( နိုင် ) ၀၁၅၇၃၂

(ဃ) နေရပ်လိပ်စာ အမှတ် ၁၁၅/၅၂ လမ်း
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စပယ်ရှယ်မန်နျူဖက်ချာ ရင်းကုမ္ပဏီလီမိတက် (Special Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား စက္ကူလက်ကိုင်ပုဝါ (Tissue Paper) - အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဗိုလ်သာထာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း (၄)၊ မြေကွက်အမှတ် ၄၁

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၄.၂၄ သန်း
( ကျပ်သုံး ဆယ့်လေး သန်း နှစ်သိန်း လေး သောင်း ခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄၄/၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် ၁၄ ရက်။
(၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.) တည်ထောင်၍ ရန်ကုန်တိုင်း၊ လှိုင်သာယာ မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် အပိုင်း(၄)၊ မြေကွက်အမှတ် (၄၃) ရှိ မြေ (၁.၉၉၈)ဧက (၈၀၈၅.၆၃ စတုရန်းမီတာ) ကို ငှါးရမ်း၍ စက်ရုံ တည်ဆောက်ပြီး စက္ကူ လက်ကိုင်ပုဝါ အမျိုးမျိုး (Tissue Papers) ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက် အား (၁၇-၁၀-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၂၀-၁၁-၉၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၃၉/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.) အား စက္ကူ လက်ကိုင်ပုဝါ အမျိုးမျိုး (Tissue Papers) ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၀၉၅/၉၇ ကို ထုတ်ပေးလိုက်သည်။

၂။ စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.) အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက် အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ ပြည်ပတင်ပို့မှုမှ ရရှိသည့် ဝင်ငွေဖြင့်သာ ပေးဆပ်ရန်။

၄။ စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.) ကို မြန်မာ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၇။ စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ဂတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၈။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၁၂၂/၉၇ (၁၄၃၉)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ အမှတ် (၁) စက်မှု ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စက္ကူနှင့် ဓါတုဗေဒ လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင် အား ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၁။ အုပ်ချုပ်မှု ဒါရိုက်တာ၊ စပယ်ရှယ် မန်နျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.)

အ မိန့် အ ရ -

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

## အစည်းအဝေး အစီအစဉ် (            )

အကြောင်းအရာ။ ။ စပယ်ရှယ်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်တည်ထောင်၍ စက္ကူလက်ကိုင်ပုဝါ (Tissue Paper) အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | စပယ်ရှယ်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် (Special Manufacturing Co., Ltd.) |
| ၂။ | အဆိုပြုလုပ်ငန်း | စက္ကူလက်ကိုင်ပုဝါ( Tissue Paper - ) အမျိုးမျိုး ထုတ်လုပ်ခြင်း |
| ၃။ | ဖွဲ့စည်းပုံ | မြန်မာကုမ္ပဏီ |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု (နိုင်ငံခြားငွေပါဝင်မှု) | ကျပ် ၃၄.၂၄ သန်း<br>(အမေရိကန်ဒေါ်လာ ၀.၆၂၃ သန်း)<br>အမေရိကန်ဒေါ်လာ ၀.၆၂၃ သန်းတန်ဖိုးရှိ စက်ပစ္စည်းကိရိယာနှင့်ကုန်ကြမ်းပစ္စည်းများကို ထိုင်းနိုင်ငံ၊ Lucky Nice Inter-Trading Co., Ltd. - မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်အရ ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ |
| ၅။ | တည်နေရာ | မြေကွက်အမှတ်(၄၃)၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၁.၉၉၈ ဧက ( ၈၀၈၇.၆၃ စတုရန်းမီတာ ) |
| | - မြေအမျိုးအစား | စက်မှုမြေ |
| | - မြေပိုင်ဆိုင်မှု | စပယ်ရှယ်ကုမ္ပဏီလီမိတက်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ |
| ၇။ | ထုတ်လုပ်မှု( ပုံမှန်နှစ် ) | ဗူးရေ ထောင်ပေါင်း |
| | Facial Tissue | ၁၆၀၀ |
| | - ပြည်တွင်းရောင်း( ၄၀%) | ၆၄၀ |
| | - ပြည်ပရောင်း( ၆၀%) | ၉၆၀ |
| ၈။ | ရောင်းဈေးနှုန်း( ၁ဗူး ) | ပုံမှန်နှစ် |
| | - ပြည်တွင်းရောင်း | ကျပ် ၁၂၀ |
| | - ပြည်ပရောင်း | US $ ၁.၂၀ |
| ၉။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန်( US $ သန်း ) | ၀.၀၄ |
| | ( ကျပ်သန်း ) | ၃.၈၇ |
| | - ကုန်သွယ်လုပ်ငန်းခွန်( ကျပ်သန်း) | ၇.၆၀ |
| ၁၀။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | ဥပဒေပုဒ်မ ၁၂ နှင့်၁၃ အရခွင့်ပြုရန် |



* အေး * ၂၇-၁၀-၉၇



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီးချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ ဒု ) ၀ ခ ၇ / ၇ င်း နှီး / ၁( ၄၁၀ ) ၊
ရက်စွဲ ၊ ၁၉၉၇ ခုနှစ် အောက်တိုဘာလ ၂၃ ရက်။

အကြောင်းအရာ။ ။ <u>စမယ်ဌယ်မန် ချောက်ချားရင်းကုမ္ပဏီလီမိတက်တည် ထောင်၍ စက္ကူလက်ကိုင်ပုဝါ(Tissue Paper )အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြပေးပါရန် ဒုတိယဝန်ကြီးချုပ်ရုံး၏ ၂၀-၁၁-၉၇ ရက်စွဲပါစာအမှတ်၊ ( ဒု ) ၀ ခ ၇ / ၇ င်းနှီး / ၁( ၄၀၂ ) ၏ မိတ္တူစောင်ရေ( ၁၁ ) စောင်ကို ပူးတွဲပေးပို့အပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
[ ဒေါက်တာ ဘထွန်းရှင် ဒုတိယ ညွှန်ကြားရေးမှူးချုပ် ]

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>



* ဝိန် ၂-၁၀-၉၇။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီးချုပ်ရုံး
ရန်ကုန်မြို့။

စာအမှတ်၊ (ဒု)၀ခ၇/ရင်းနှီး/၁(၄၀၂)
ရက်စွဲ၊ ၁၉၉၇ခုနှစ်၊ အောက်တိုဘာလ၂၀ ရက်

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ။</u>

အကြောင်းအရာ။ ။ <u>စပယ်ရှယ်မန်နျူဖက်ချာ ရင်း ကုမ္ပဏီလီမိတက်တည်ထောင်၍ စက္ကူလက်ကိုင်ပုဝါ ( Tissue Paper ) - အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော စပယ်ရှယ်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် ( Special Manufacturing Co., Ltd. ) တည်ထောင်၍ စက္ကူလက်ကိုင်ပုဝါ( Tissue Paper )အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို( ၁၇-၁၀-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၁၆/၉၇)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာလုပ်ငန်း ဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူစက်ပစ္စည်းကိရိယာနှင့်ကုန်ကြမ်းပစ္စည်းများ ဝယ်ယူရန်ရွေးဆိုင်း ငွေပေးချေခြင်းစနစ်သဘောတူစာချုပ်( မူကြမ်း )ကို <u>နောက်ဆက်တွဲ( ၁)</u>အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာအမေရိကန်ဒေါ်လာ (၀.၆၂၃)သန်း အပါအဝင်ကျပ်( ၃၄.၂၄)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ်( ၅.၀၀)သန်း ၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ်( ၂.၀၄)သန်း [အမေရိကန်ဒေါ်လာ( ၀.၃၄၀)သန်း]၊ အဆောက်အဦတန်ဖိုး ကျပ်( ၉.၀၀)သန်း ၊ မြေတန်ဖိုး ကျပ်( ၁၄.၀၀)သန်း ၊ ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းတန်ဖိုးကျပ်(၂.၅၀)

သန်း နှင့်ကုန်ကြမ်း တန်ဖိုး ကျပ်(၁.၇၀)သန်း [အမေရိကန်ဒေါ်လာ(၀.၂၈၃) သန်း] ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာနှင့်ကုန်ကြမ်း ပစ္စည်း များ ကိုထိုင်း နိုင်ငံ Lucky Nice Inter-Trading Co., Ltd. - မှရွှေ့ဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၅) ရာခိုင်နှုန်း ဖြင့်(၅) နှစ်အတွင်း ပြန်လည်ပေး ဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကိုဆောင်ရွက်ရန်အတွက် စပယ်ရှယ်ကုမ္ပဏီလီမိတက် အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သောမြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနပိုင် လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း (၄)၊ မြေကွက်အမှတ်(၄၃) ရှိ မြေ ၁.၉၉၈ ဧက(၈၀၈၅.၆၃ စတုရန်း မီတာ) ပေါ်တွင်စက်ရုံတည် ဆောက်ပြီး စက္ကူလက် ကိုင် ပုဝါအမျိုး မျိုး ထုတ်လုပ်သွား မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း မှ ပုံမှန်နှစ်တွင် Facial Tissue ဗူးရေ ထောင်ပေါင်း (၁၆၀၀) ထုတ်လုပ်မည်ဖြစ်ရာ ထုတ်လုပ်မှု၏ (၆၀) ရာခိုင်နှုန်းကို ပြည်ပသို့တင်ပို့ရောင်း ချပြီး ပြည်တွင်း တွင်(၄၀) ရာခိုင်နှုန်း ရောင်း ချ မည် ဖြစ်ပါသည်။ ရောင်း ဈေး နှုန်း များ မှာ ပုံမှန်နှစ်တွင်တစ်ဗူး လျှင်ပြည်ပသို့အမေရိကန်ဒေါ်လာ (၁.၂၀) ဒေါ်လာနှုန်း ဖြင့်လည်း ကောင်း၊ ပြည်တွင်း တွင် ကျပ် (၁၂၀) နှုန်း ဖြင့်လည်း ကောင်း ရောင်း ချမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း အတွက်လိုအပ် သောကုန်ကြမ်း များ ကိုပြည်တွင်းပြည်ပ မှ ဝယ်ယူမည်ဖြစ် ကြောင်း တင်ပြထား ပါသည်။

၆။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့် ဝင် ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | နိုင်ငံခြား | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၆.၉၁ | ၇၆.၈၀ | ၈၃.၇၁ |
| (ခ) အသုံး စရိတ် | ၅.၄၇ | ၆၇.၅၃ | ၇၃.၀၀ |
| (ဂ) အသားတင်အမြတ် | ၁.၄၄ | ၉.၂၇ | ၁၀.၇၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၄ |
| | (ကျပ်သန်း) | ၃.၉၇ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၇.၆၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်းမှ ဝန်ထမ်း (၈၃) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းမှုလုပ်ငန်းများကို အလေးပေး ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) စပယ်ရှယ်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်တည်ထောင်၍ စက္ကူလက်ကိုင်ပုဝါ ( Tissue Paper ) အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ-မတူ။

၁၃။ ဒုတိယဝန်ကြီးချုပ်ရုံး၏ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ်မောင်မောင်ခင်]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



* ဧား *၁၇-၁၀-၉၇

File ၈၀၂

ပြည်ထောင်စု မြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

{အမိန့်အမှတ် ၁၄၇/၂၀၀၀(မနသ)}

ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၄ ရက်

(၂၀၀၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်)

၁။ ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၀ အရ (၂၈.၁၁.၉၇) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် (မနသ-၀၉၅/၉၇) ဖြင့် လည်းကောင်း၊ ယင်း ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားရန် (၂၈.၁၁.၉၇) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၄၄/၉၇ ဖြင့် လည်းကောင်း အသီးသီး ထုတ်ပေးခဲ့သည့် စပယ်ရှယ် မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် မှာ ရင်းနှီးမြှုပ်နှံမှု ပြုရန်အတွက် ထည့်ဝင်ရင်းနှီးငွေ စုဆောင်းရန် အချိန်ကြာမြင့်နေခြင်းကြောင့် ခွင့်ပြုမိန့် ပြန်လည် အပ်နှံခဲ့သဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၁၈ ပုဒ်မခွဲ (စ) တို့အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး၍ အဆိုပါ ကုမ္ပဏီသို့ ထုတ်ပေးခဲ့သော ဖော်ပြပါခွင့်ပြုမိန့် နှင့် ခံစားခွင့်များပေးသည့် အမိန့်ကြော်ငြာစာများကို ပြန်လည် ရုပ်သိမ်းလိုက်သည်။

၂။ စပယ်ရှယ်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်သည် ဤအမိန့် ထုတ်ပြန်သည့် နေ့မှစ၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် တင်သွင်းခံစားခဲ့သော စက်ပစ္စည်းကိရိယာများ၊ မော်တော်ယာဉ်များ နှင့် လုပ်ငန်းသုံး ပစ္စည်းများအပေါ် ပြန်လည် စစ်ဆေးခြင်း၊ အခွန်များ ကျသင့်စေခြင်း၊ ဒဏ်ကြေးငွေများ ပေးဆောင်စေခြင်း စသည်တို့ကို တည်ဆဲ ဥပဒေများနှင့်အညီ စိစစ်ဆောင်ရွက်နိုင်ရန်သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းသို့ ရက်ပေါင်း သုံးဆယ်(၃၀) ရက်အတွင်း အကြောင်းကြားရမည်။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်အတွက် ကုမ္ပဏီသည် Deferred Payment, Loan Agreement, Supplier's Credit Agreement, Buy-back Agreement တစ်ခုခုဖြင့် နိုင်ငံခြားချေးငွေ ရယူထားပြီး ဖြစ်ပါက အဆိုပါ ရယူထားပြီးဖြစ်သော ချေးငွေကို ပြန်လည် ပေးဆပ်ရန်ကိစ္စမှာ ထိုကုမ္ပဏီ၏ တာဝန်သာ ဖြစ်စေရမည်။

၃။ စပယ်ရှယ်မန်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက်သည် ဤအမိန့်ကို တိကျစွာ လိုက်နာ ဆောင်ရွက်ခြင်း မရှိပါက တည်ဆဲ ဥပဒေများအရ ထိရောက်စွာ အရေးယူခြင်း ခံရမည်။

၄။ ဤ ပြန်လည်ရုပ်သိမ်းသည့် အမိန့်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ဖော်ပြပါ ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် ရက်နေ့ နှင့် သက်သာခွင့်များပေးသည့် အမိန့်ကြော်ငြာစာ ထုတ်ပြန်သည့် နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၁၂၂/ ၉၉ (၁၁၆၇၉-၅၂)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စက္ကူနှင့် ဓါတုဗေဒလုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၆။ မန်နေးဂျင်း ဒါရိုက်တာ၊ စပယ်ရှယ် မန်နျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Special Manufacturing Co., Ltd.)။

# SPECIAL MANUFACTURING CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ(၁၅)ရက်

အကြောင်းအရာ။ ။ **လုပ်ငန်းအဆိုပြုလွှာတင်ပြအစီရင်ခံခြင်းကိစ္စ။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ကျွန်တော်များ၏ **Special Manufacturing Co., Ltd.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်နိုင်ငံတကာအဆင့်မီစက္ကူလက်ကိုင်ပဝါအမျိုးမျိုးထုတ်လုပ်သည့်စက်ရုံတည်ထောင်၍၊ ပြည်တွင်းပြည်ပသို့ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏လုပ်ငန်းအဆိုပြုလွှာကိုလိုအပ်သလိုစိစစ်ပေးနိုင်ပါရန်နှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြပေးနိုင်ပါရန် အဆိုပြုလွှာ(၃၅)စုံကိုပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးကြည်စိုး
(အုပ်ချုပ်မှုဒါရိုက်တာ)
Special Manufacturing Co., Ltd.

# SPECIAL MANUFACTURING CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၇ ခုနှစ်၊ဩဂုတ်လ( ၁၄ )ရက်

အကြောင်းအရာ။ ။ **နိုင်ငံတကာအဆင့်မီစက္ကူလက်ကိုင်ပုဝါ(Tissue Paper)အမျိုးမျိုး ထုတ်လုပ်သည့်စက်ရုံတည်ထောင်၍၊ပြည်တွင်းပြည်ပတွင်ဖြန့်ဖြူး ရောင်းချနိုင်ရန်အတွက်၊မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန်တင်ပြခြင်းကိစ္စ။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ၂၈-၄-၉၇ ရက်စွဲပါကျွန်တော်များ ကုမ္ပဏီ၏အဆိုပြုလွှာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ သို့ရာတွင်စက်ရုံတည်ထောင်ဆောက်လုပ်မည့် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၄)၊မြေကွက်အမှတ်(၄၃)နှင့်စပ်လျဉ်းသည့်စာရွက်စာတမ်းများတင်ပြနိုင်ခြင်းမရှိသေးသည့် အတွက်ခေတ္တဆိုင်းငံ့ထားပေးပါရန်၊ ကျွန်တော်များကုမ္ပဏီမှမေတ္တာရပ်ခံထားခဲ့ပါသည်။

၃။ ယခုအခါ အဆိုပါစက်ရုံတည်ထောင်ဆောက်လုပ်မည့်မြေနေရာနှင့်ပတ်သက်သည့် အထောက်အထားများပူးတွဲလျက်၊ အဆိုပြုလွှာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြပေးပါရန် နှင့်ကျွန်တော်များ Special Manufacturing Co., Ltd. ၏အဆိုပြုချက်(၁၂)စုံကို၊ စိစစ်ပေးနိုင်ပါရန် အစီရင်ခံတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးကြည်စိုး
(အုပ်ချုပ်မှုဒါရိုက်တာ)
Special Manufacturing Co., Ltd.

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

လုပ်ငန်းဆောင်ရွက်ရန်

# အဆိုပြုချက်

Special Manufacturing Co., Ltd.

# SPECIAL MANUFACTURING CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဧပြီလ (၂၈) ရက်

အကြောင်းအရာ။ **လုပ်ငန်းအဆိုပြုချက်တင်ပြခြင်း**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်၏ Special Manufacturing Co., Ltd. သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ စက္ကူ၊ လက်ကိုင်ပုဝါ အမျိုးမျိုးထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ပြည်တွင်းပြည်ပသို့ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ လုပ်ငန်းအဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ပါရန်အတွက် အဆိုပြုလွှာ (၁၂)စုံကို ပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

(ဦးကြည်စိုး)
အုပ်ချုပ်မှုဒါရိုက်တာ

# SPECIAL MANUFACTURING CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၁၉၉၇ ခုနှစ် ဧပြီလ ၂၈ ရက်

အကြောင်းအရာ။ နိုင်ငံတကာအဆင့်မီ စက္ကူလက်ကိုင်ပုဝါ (Tissue Paper ) အမျိုးမျိုး ထုတ်လုပ်သည့် စက်ရုံတည်ထောင်၍ ပြည်တွင်းပြည်ပတွင် ဖြန့်ဖြူးရောင်းချရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကိစ္စ၊

၁။ ကျွန်တော်များ Special Manufacturing Co., Ltd. သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် အပိုင်း(၄)၊ မြေကွက်အမှတ် (၄၃)ရှိ မြေအကျယ်အဝန်း ၂ ဧက ပေါ်တွင် နိုင်ငံတကာအဆင့်မီ စက္ကူလက်ကိုင်ပုဝါ အမျိုးမျိုးထုတ်လုပ်သည့်စက်ရုံတည်ဆောက်၍ ပြည်တွင်းပြည်ပသို့ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်လုပ်ကိုင်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် တင်ပြခြင်း ဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၀.၆၂ )သန်း အပါအဝင် ကျပ် ၃၄.၂၄ သန်းရင်းနှီးမြှုပ်နှံ၍ ဆောင်ရွက်မည်ဖြစ်ပါသည်။ ဤလုပ်ငန်းမှ ကျန်းမာရေးအတွက် အထောက်အကူဖြစ်စေမည့် နိုင်ငံတကာအဆင့်အတန်းမီ တစ်ခါသုံး စက္ကူလက်ကိုင်ပုဝါ များကို ထုတ်လုပ်၍ ပြည်ပနိုင်ငံများသို့ ပြန်လည်တင်ပို့နိုင်ရန်အတွက် ထိုင်းနိုင်ငံ Lucky Nice Inter-Trading Co.. Ltd. မှခေတ်မီ စက်ကိရိယာများနှင့် အရည်အသွေးမြင့်မားသည့် ကုန်ကြမ်းပစ္စည်း အမေရိကန်ဒေါ်လာ ( ၀.၆၂ ) သန်းဖိုးကို ရွှေ့ဆိုင်းငွေချေစနစ် ( Deferred Rayment ) ဖြင့်ဝယ်ယူမည် ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ဤလုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုမိန့်ရရှိပါက နိုင်ငံတော်မှ ချမှတ်ထားသည့် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ ရရှိလာမည့် အကျိုးအမြတ်ကို နိုင်ငံတော်စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူပြုစေမည့် နိုင်ငံတော်အတွင်းခွင့်ပြုထားသည့် အခြားစီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ထားပါသည်။ ထို့ပြင် နိုင်ငံသားများအလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိလာမည်ဖြစ်ပြီး၊ နိုင်ငံခြားငွေချွေတာနိုင်မှု၊ နိုင်ငံခြားငွေစီးဝင်မှု စသည့် အကျိုးအမြတ်များကိုလည်း နိုင်ငံတော်မှရရှိနိုင်မည်ဖြစ်သည့်အပြင် နိုင်ငံတော်၏ ဘဏ္ဍာအခွန်ငွေလည်း တိုးတက်ရရှိလာနိုင်မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီမှ နိုင်ငံတကာအဆင့်မီစက္ကူလက်ကိုင်ပုဝါအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုပါ ခံစားခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

၅။ ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကိုပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ဆောင်ရွက်ရန်အဆိုပြုချက်

(၂) ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ ( Draft )

(၃) Deferred Payment Agreement

(၄) သင်းဖွဲ့မှတ်တမ်းနှင့်စည်းမျဉ်းများ (မူကြမ်း)

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

( ဦးကြည်စိုး )
အုပ်ချုပ်မှုဒါရိုက်တာ

# SPECIAL MANUFACTURING CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဧပြီလ (၂၈) ရက်

အကြောင်းအရာ။ **လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ကတိခံဝန်ချက်ပေးပို့ခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ၏ Special Manufacturing Co., Ltd. အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ စက္ကူလက်ကိုင်ပုဝါအမျိုးမျိုးထုတ်လုပ်သည့်စက်ရုံတည်ဆောက်၍ ပြည်တွင်းပြည်ပသို့ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီးနိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့ပြင် မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဆိုင်ရာ ကိစ္စရပ်များမဖြစ်ပေါ်စေရန် အတွက်လည်း ပတ်ဝန်းကျင်ထိန်းသိမ်းမှုလုပ်ငန်းများကို အလေးထားဆောင်ရွက်ပါမည်ဟု ကတိဝန်ခံပြုပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

(ဦးကြည်စိုး)
အုပ်ချုပ်မှုဒါရိုက်တာ



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဧပြီလ (၂၈ ) ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးကြည်စိုး |
| (ခ) | အဖအမည် | ဦးတော်စိန်ဟို |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/လသန(နိုင်)၀၁၅၇၃၂ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် ၁၁၅/၅၂လမ်း ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | တရုတ် - ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | စပယ်ရှယ်မန်နူဖက်ချာရင်း ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | လီမိတက်ကုမ္ပဏီ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် (၁) .......................... (၂) ..........................
.......................... ..........................
.......................... ..........................

(ခ) အဖအမည် (၁) .......................... (၂) ..........................

..........................  ..........................

..........................  ..........................

(ဂ) နိုင်ငံသား /အမျိုးသားမှတ်ပုံတင်အမှတ်

(၁) .......................... (၂) ..........................

(ဃ) နေရပ်လိပ်စာ (၁) .......................... (၂) ..........................

..........................  ..........................

..........................  ..........................

(င) လူမျိုး၊ ဘာသာ (၁) .......................... (၂) ..........................

..........................  ..........................

..........................  ..........................

(စ) အဖွဲ့အစည်းအမည် ..........................................................................

(ဆ) လုပ်ငန်းအမျိုးအစား ..........................................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း: **စက္ကူလက်ကိုင်ပုဝါအမျိုးမျိုးထုတ်လုပ်ခြင်း**

(ခ) ဝန်ဆောင်မှုလုပ်ငန်း: ..........................................................................

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................................................

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ **စပယ်ရှယ်မန်နူဖက်ချာရင်းကုမ္ပဏီလီမိတက်**

နောက်ဆက်တွဲ (၁)

(ဃ) သမဝါယမအသင်း -

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ /အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ / စီမံခန့်ခွဲမည့် သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်ထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ

..............................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား ..........................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ..................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန်)။

၇။ သမဝါယမအသင်း /လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း ကျပ်သန်း (၁၀၀)

တစ်စုလျှင် (၁၀၀၀၀)ကျပ်တန်၊အစုရှယ်ယာ (၁၀၀၀၀)

(ခ) အစုရှယ်ယာအမျိုးအစား သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ ........................

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ

(က) မတည်ငွေရင်းပမာဏ (ကျပ်)

| | | | ကျပ် |
|---|---|---|---|
| (၁) | ငွေပမာဏ | | ၅၀၀၀,၀၀၀ |
| | (နိုင်ငံခြား မတည်ငွေ ပါဝင်ပါက သီးခြားဖော်ပြရန်) | | |
| (၂) | စက်ပစ္စည်းကိရိယာများ | | ၂၀၄၄၅၀၀ |
| | တန်ဖိုးပမာဏ | | (အမေရိကန်ဒေါ်လာ၃၄၀၇၅၀) |
| | (နောက်ဆက်တွဲ - ၂ ) | | |
| (၃) | အဆောက်အအုံ/ မြေ | | ၂၃၀၀၀၀၀၀ |
| | - မြေ | ၁၄၀၀၀၀၀၀ | |
| | - အဆောက်အအုံ | ၉၀၀၀၀၀၀ | |
| (၄) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | | |
| | တန်ဖိုးပမာဏ | | ၂၅၀၀၀၀၀ |
| (၅) | ကုန်ကြမ်းတန်ဖိုးပမာဏ | | ၁၆၉၅၀၀၀ |
| | (နောက်ဆက်တွဲ - ၃ ) | | (အမေရိကန်ဒေါ်လာ ၂၈၂၅၀၀) |
| | | | --------- |
| | စုစုပေါင်း | | ၄၄၂၃၉၅၀၀ |
| | | | ========= |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏တန်ဖိုးပမာဏ | ၂၀၄၄၅၀၀ | ၃၄၀၇၅၀ |
| | | | နောက်ဆက်တွဲ-၂ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး | ၁၆၉၅၀၀၀ | ၂၈၂၅၀၀ |
| | | | နောက်ဆက်တွဲ-၂ |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | .................. | .................. |
| | | --------- | --------- |
| | စုစုပေါင်း | ၃၇၃၉၅၀၀ | ၆၂၃၂၅၀ |
| | | ========= | ========= |

(ဂ) တည်ဆောက်မှုကာလ ( ၈ ) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ ( ၄ ) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် ခွင့်ပြုမိန့်ရရှိပြီးတစ်လအတွင်း စက်ပစ္စည်းကိရိယာများနှင့် ပထမ ၆လအတွက်လိုအပ်သောကုန်ကြမ်းပစ္စည်းများကို ထိုင်း နိုင်ငံ Lucky Nice Inter- Trading Co.. Ltd. မှ Defferred Payment စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား စက္ကူလက်ကိုင်ပုဝါအမျိုးမျိုးထုတ်လုပ်ခြင်း
(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ အမှတ်(၄၃)စက်မှုဇုန် အပိုင်း(၄) လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် ခေတ်မီထုတ်လုပ်မှုနည်းပညာ

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် –

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | စက်မောင်းဆီ | ၁၅၀၀၀ |
| ၂။ | ............................ | ............................ |
| ၃။ | ............................ | ............................ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် –

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ၉၀၀၀၀ |
| ၂။ | ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | .................. |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | .................. |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | .................. |
| ၅။ | ပေးပို့သည့်အခြားအား<br>(ရေအား/လေအား စသည်များ) | .................. |

(စ) နှစ်စဉ်ရေလိုအပ်ချက် (၆၀၀၀၀)ဂါလံ
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန် )

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း /ကုန်ကြမ်းလိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | (၁) ...................... | ...................... | ............. | ............. |
| | (၂) ...................... | ...................... | ............. | ............. |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) ...................... | ...................... | ............. | ............. |
| | (၂) ...................... | ...................... | ............. | ............. |
| ၃။ | စက်သုံးဆီ/ဓါတ်ငွေ့များ | | | |
| | (၁) ...................... | ...................... | ............. | ............. |
| | (၂) ...................... | ...................... | ............. | ............. |

(ဇ) အဆောက်အအုံလိုအပ်ချက် ၆၀၀၀ စတုရန်းမီတာ

..........................................................................................................................................

(ဈ) နေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက်

**လှိုင်သာယာစက်မှုဇုန်အပိုင်း(၄) မြေကွက်အမှတ် (၄၃) မြေ ၁.၉၉၈ ဧက**

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ............................. | ............. | နောက်ဆက်တွဲ (၄) | ...................... |
| ............................. | ............. | .......................... | ...................... |
| ............................. | ............. | .......................... | ...................... |
| ............................. | ............. | .......................... | ...................... |

(ဋ) ရောင်းချမည့်နည်းစနစ် ပြည်ပသို့တင်ပို့ရောင်းချခြင်း

(ထုတ်လုပ်မှု၏ ၆၀ %)

ပြည်တွင်း၌ကျပ်ဖြင့်ရောင်းချခြင်း

(ထုတ်လုပ်မှု၏ ၄၀ %)

